ပုံစံ(မနသ-၂)
စာအမှတ် ၅၁၄၇
နေ့စွဲ ၁၆.၁၀.၉၅

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ - ၁၈၄/၉၈ ၁၉၉၈ ခုနှစ်၊ အောက်တိုဘါလ ၁၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဗိုလ်ကြီး ဇော်ဖေ (အငြိမ်းစား)

(ခ) အဘအမည် ဦးသန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် MTA - ၀၉၉၉၄၂

(ဃ) နေရပ်လိပ်စာ အမှတ်-၂၃၁၊ ဥတ္တရ (ဂ) လမ်း၊ (ဂ) ရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ၁၆ ညီအစ်ကိုများကုမ္ပဏီလီမိတက် (The 16th Batch Brothers Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား Construction and Leasing of Office & Apartment, Shopping Centre & Plaza

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အမှတ် (၂၀၂-၂၀၆) ဘုန်းကြီးလမ်းနှင့်ကုန်းကြီးလမ်းဒေါင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၂၃၁.၀) သန်း (ကျပ်နှစ်ရာသုံးဆယ့်တစ်သန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၇ ၈ /၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၁ ၁ ရက်။
(၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ ၁ ၆ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.) သည် ပြန်ကြားရေး ဝန်ကြီးဌာန၊ မြန်မာ့ရုပ်ရှင် လုပ်ငန်းပိုင် (စံပြရုပ်ရှင်ရုံ) အမှတ်(၂၀၂၊ ၂၀၆) ဘုန်းကြီးလမ်းနှင့် ကျုံးကြီးလမ်းထောင့်၊ လမ်းမတော်မြို့နယ်ရှိ မြေ (၀.၁၆၁၁)ဧက (၆၅၁.၉၅ စတုရန်းမီတာ) ကို ကနဦး (၃၀)နှစ် ငှါးရမ်း၍ B.O.T စနစ်ဖြင့် ရုံးခန်း၊ ဆိုင်ခန်းနှင့် လူနေအိမ်ခန်းများ ပါဝင်သော ခေတ်မီ (၁၂)ထပ် အဆောက်အဦ ဆောက်လုပ်၍ ငှါးရမ်းခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၄-၉-၉၈)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူ အားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၄-၉-၉၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၃/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)အား B.O.T စနစ်ဖြင့် ရုံးခန်း၊ ဆိုင်ခန်းနှင့် လူနေအိမ်ခန်း ဆောက်လုပ်၍ ငှါးရမ်းခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၈၄/၉၈ ကို ထုတ်ပေးလိုက်သည်။

၂။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက် တည်း (၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင် အထည် ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန် တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ နှင့် ဆောက်လုပ်ရေးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System) ရွှေ့ဆိုင်း ငွေပေးချေမှုစံနစ် (Deferred Payment System) စသည် တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ နှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ နှင့် လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပြန်ကြားရေး ဝန်ကြီးဌာန၊ မြန်မာ့ရုပ်ရှင် လုပ်ငန်းနှင့် ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.) တို့ ချုပ်ဆိုမည့် B.O.T စနစ်အရ မြေငှါးရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် မြေငှါးရမ်းကာလမှာ တည်ဆောက်ရေးကာလ (၂၄)လ ပြည့်သည့်နေ့မှစ၍ နှစ်(၃၀)ဖြစ်သည်။ လိုအပ်ပါက (၅)နှစ် (၃)ကြိမ် ငှါးရမ်းရေးကို ညှိနှိုင်းဆောင်ရွက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ကို ရယူရမည်။

၈။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)သည် ခေတ်မီ (၁၂)ထပ်အဆောက်အအုံကို မြေလွှဲပြောင်း လက်ခံရရှိသည့်နေ့မှ(၂၄)လအတွင်း အတည်ပြုချက် ရရှိပြီးသော ပုံစံ၊ စံချိန်စံညွှန်းများနှင့် အညီအပြီးတည်ဆောက်ရမည်။ (၂၄)လ ပြည့်မြောက်သည်အထိ တည်ဆောက်၍ ပြီးစီးခြင်းမရှိပါက (၂၄)လ ပြည့်သည့်နေ့မှစ၍ လစဉ်သတ်မှတ်ထားသော ငှါးရမ်းခများကို ပေးဆောင်ရမည်။ မြေငှါးကာလကို တည်ဆောက်ရေးကာလအတွက် ခွင့်ပြုထားသော (၂၄)လ ပြည့်ပြီး နောက်တစ်နေ့မှ စတင်ရေတွက်ရမည်။

၉။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)သည် မြေအသုံးချမှု ပရီမီယံ (Land Use Premium) အဖြစ် မြန်မာ့ရုပ်ရှင် လုပ်ငန်းသို့ ကျပ်(၅၀၀)သိန်း (ကျပ် သိန်းငါးရာတိတိ) ကိုနှစ်ရစ်ခွဲ၍ ပေးချေရမည်။ ပထမအရစ်အဖြစ် ကျပ် (၂၅၀)သိန်း (ကျပ် သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို မြေငှါးသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း ပေးချေရမည်ဖြစ်ပြီး၊ ဒုတိယအရစ်အဖြစ် ကျန်ရှိသော ငွေကျပ် (၂၅၀)သိန်း (ကျပ်သိန်းနှစ်ရာ့ငါးဆယ်တိတိ) ကို မြေငှါး သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ တစ်နှစ်အတွင်း ပေးချေရမည်။

၁၀။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)သည် မြေငှါးခအဖြစ် တစ်နှစ်လျှင် တစ်စတုရန်းမီတာကို ကျပ် (၁၂၀၀) (ကျပ် တစ်ထောင်နှစ်ရာတိတိ) နှုန်းဖြင့် (၃)လတစ်ကြိမ်ကြိုတင်ပေးချေရမည်။

၁၁။ ငှါးရမ်းခနှုန်းထားများကို ငါးနှစ်တစ်ကြိမ် ပြန်လည်ပြင်ဆင်သတ်မှတ်နိုင်သည်။ ထိုကဲ့သို့ပြင်ဆင်သတ်မှတ်သည့် ငှါးရမ်းခနှုန်းထားသည် ပြီးခဲ့သောကာလက သတ်မှတ်သည့် နှစ်စဉ်ငှါးရမ်းခ နှုန်းထား၏ (၁၅)ရာခိုင်နှုန်းထက်မပိုစေရ။

၁၂။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)သည် ဘဏ်အာမခံကြေးငွေ ကျပ်(၁၇)သိန်း (ကျပ် တစ်ဆယ်ခုနစ်သိန်းတိတိ) ကို မြန်မာ့ရုပ်ရှင် လုပ်ငန်းမှ သတ်မှတ်ပေးသော ဘဏ်တွင် မြေငှါးရမ်းခြင်း သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း (၃၀)အတွင်း ပေးသွင်းရမည်။

၁၃။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.) သည် ငှါးရမ်းကာလကုန်ဆုံးသည့်အခါ မြေနှင့်တကွ အဆောက်အဦအပါအဝင် အဆောက်အဦနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းအားလုံးကို ကောင်းမွန်စွာအသုံးပြုနိုင်သည့်အနေအထားအတိုင်း မြန်မာ့ရုပ်ရှင်လုပ်ငန်းသို့ အဖိုးစားနားမဲ့ ပြန်လည် လွှဲပြောင်းပေးရမည်။

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြန်ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၆။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၇။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၈။ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံ များကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံ တင်ပြရမည်။

၁၉။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၂၅၄/၉၈ (၅၁၄၇)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ၁ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၁။ ပြန်ကြားရေး ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရုပ်ရှင် လုပ်ငန်း။
၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ၁၆ ညီအကိုများကုမ္ပဏီ လီမိတက် (The 16th Batch Brothers Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
ရန်ကုန်မြို့

**ဝန်ထမ်းဟူသည်ပါတီနိုင်ငံရေးနှင့်ကင်းရှင်းရမည်**

**နိုင်ငံသားကြီးစား လုပ်အားဖြင့်နိုင်ငံတည်**

**တိကျ မှန် မြန်**

စာအမှတ်၊ ၂ - ၁၀ ( ၇၇ / ၉၈ )
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဩဂုတ်လ ( ၂၅ )ရက်။

အကြောင်းအရာ။ ။ မြန်မာ့ရုပ်ရှင်လုပ်ငန်းလက်အောက်ရှိ ရုပ်ရှင်ရုံများကို B. O. T စနစ်ဖြင့် ငှားရမ်းခွင့်ပြုပါရန် ကိစ္စ။

ရည်ညွှန်းချက်။ ။ ဤဝန်ကြီးဌာန ဝန်ကြီးရုံး၏ -
( ၁ ) ၂၀ - ၅ - ၉၈ ရက်စွဲပါစာအမှတ်၊ ၂ - ၁၀ ( ၇၇ / ၉၈ )၊
( ၂ ) ၂ - ၆ - ၉၈ ရက်စွဲပါစာအမှတ်၊ ၂ - ၁၀ ( ၇၇ / ၉၈ )၊

၁။ မြန်မာ့ရုပ်ရှင်လုပ်ငန်းလက်အောက်ရှိ ကျောက်တံတားမြို့နယ်၊ ဘုရင့်ရုပ်ရှင်ရုံ၊ သွင်နှင့် ဆုထူးပန် ရုပ်ရှင်ရုံများအတွက် အဆိုပြုချက်များကို ရည်ညွှန်း( ၁ ) ပါစာဖြင့် လည်းကောင်း၊ လမ်းမတော်မြို့နယ်၊ စံပြနှင့် ကေသွယ် ရုပ်ရှင်ရုံများအတွက် အဆိုပြုချက်များကို ရည်ညွှန်း ( ၂ ) ပါစာဖြင့် လည်းကောင်း၊ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပါ ရုပ်ရှင်ရုံ ( ၅ ) ရုံကို B. O. T စနစ်ဖြင့် နှစ်ရှည်ငှားရမ်းနိုင်ရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သတ်မှတ်ချက်များနှင့်အညီ ပြင်ဆင်ပြုစုထားသည့် အဆိုပြုချက် ( ၂၅ ) စုံစီကို ပူးတွဲ တင်ပြအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( ဗိုလ်မှူးချုပ် အောင်သိန်း၊ ဒုတိယဝန်ကြီး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

မိတ္တူကို-
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ရုပ်ရှင်လုပ်ငန်း ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
ရန်ကုန်မြို့

စာအမှတ်၊ ၂ – ၁၀ ( ၇၇ / ၉၈ )
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဇွန်လ ( ၂ ) ရက်

အကြောင်းအရာ။ ။ မြန်မာ့ရုပ်ရှင်လုပ်ငန်း လက်အောက်ရှိ ရုပ်ရှင်ရုံများကို BOT စနစ်ဖြင့်ငှားရမ်းခွင့်ပြုပါရန် ကိစ္စ ။

ရည်ညွှန်းချက် ။ ။ ပြန်ကြားရေးဝန်ကြီးဌာန၏ ၁၂ – ၅– ၉၈ ရက်စွဲပါစာအမှတ်၊ ၂ – ၁၀ ( ၇၇/၉၉ )

၁။ ပြန်ကြားရေးဝန်ကြီးဌာန ၊ မြန်မာ့ရုပ်ရှင်လုပ်ငန်းလက်ဝယ်ရှိ ရုပ်ရှင်ရုံ ( ၉ )ရုံ ကို ပုဂ္ဂလိကလုပ်ငန်းရှင်များကB.O. T ( Built Operate & Transfer ) စနစ်ဖြင့် ငှားရမ်းရန် အဆိုပြုချက်များအပေါ် လမ်းညွှန်မှုပြုနိုင်ပါရန် အထက်ရည်ညွှန်းပါစာဖြင့် တင်ပြခဲ့ရာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီတစ်ရုံချင်း၏ အဆိုပြုချက်များကို ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ပါ၍ ရန်ကုန်မြို့ ၊ လမ်းမတော်မြို့နယ် ရှိ စံပြ ရုပ်ရှင်ရုံ နှင့် ကေသွယ်ရုပ်ရှင်ရုံကို BOT စနစ်ဖြင့် ငှားရမ်း ခွင့်ပြုရေးအတွက် လိုအပ်သော အဆိုပြုချက် ( ၁၅ ) စုံစီကို ပူးတွဲတင်ပြအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( ခင်မောင်မြင့် ၊ ရုံးအဖွဲ့မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ။

မိတ္တူကို–
– ဦးဆောင်ညွှန်ကြားရေးမှူး ၊ မြန်မာ့ရုပ်ရှင်လုပ်ငန်း သို့ ပေးပို့ပါသည်။

၉

16

THE 16th BATCH BROTHERS CO., LTD.

NO. 161 (D), KYAIKKASAN ROAD
NATMAUK BLOCK
TAMWE TOWNSHIP
YANGON, MYANMAR
TEL : 01 - 548602

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၈ ခုနှစ်၊ ဇွန်လ ( ၁ ) ရက်

**အကြောင်းအရာ။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ ၁၆ ညီအစ်ကိုများ ကုမ္ပဏီလီမိတက် သည် ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့ရုပ်ရှင်လုပ်ငန်းပိုင်ဖြစ်သည့် စံပြရုပ်ရှင်ရုံ၊ ဘုန်းကြီးလမ်းနှင့် ကျုံးကြီးလမ်းထောင့်၊ လမ်းမတော် မြို့နယ်၊ ရန်ကုန်မြို့ မြေနေရာတွင် (၁၂)ထပ်အမြင့်ရှိသောဟိုတယ် Office Apartment, Shopping Centre, Plaza တို့ကိုနိုင်ငံတကာအဆင့်အတန်းမီအဆောက်အဦးများ အဖြစ် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းပေးခြင်းစနစ် ( Build, Operate and Transfer System -BOT)အရ တည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အထက်ပါအဆောက်အဦးများနှင့်ဆက်စပ်နေသည့် ရုံးခန်း၊ဆိုင်ခန်း၊ လူနေအိမ်နေရာ ငှားရမ်းခြင်းစသောလုပ်ငန်းများ လုပ်ကိုင်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်သည် စင်္ကာပူနိုင်ငံ၊ M.S. FERNANDO & SONS PTE LTD မှကမ္ဘာ့အဆင့်အတန်းမီ လုပ်ငန်းသုံးပစ္စည်းကရိယာများ နှင့် ဆောက်လုပ်ရေးပစ္စည်းများကို ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် ( Deferred Payment System ) ဖြင့်(၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရန် တစ်နှစ်လျှင် (၈) ရာခိုင်နှုန်း အတိုးဖြင့် ဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်အနေဖြင့် ရင်းနှီးငွေကျပ် ( ၂၂၅ ) သန်းကို မြန်မာနိုင်ငံကျပ်ငွေ၊ အဆောက်အဦးများဖြင့်လည်းကောင်း ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။ မြေအသုံးချခွင့်ပေးချေငွေ ( Land Use Premium ) အဖြစ် ကျပ်(၅၀၀)သိန်း ကို ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့ရုပ်ရှင်လုပ်ငန်း သို့ ပေးအပ်သွားမည်ဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်၍ရရှိလာသော အမြတ်ငွေများကိုလည်း၊ မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

16

THE 16th BATCH BROTHERS CO., LTD.

NO 161 (D), KYAIKKASAN ROAD
NATMAUK BLOCK,
TAMWE TOWNSHIP,
YANGON, MYANMAR.
TEL : 01 - 548602



၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက်ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက် လည်းကောင်း၊ စက်မှုနည်းပညာရပ်များတိုးပွားရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများစီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ကျွန်တော်တို့ကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့်သက်သာခွင့်များ ကိုလည်းပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

၅။ ထို့အပြင်ပြည်တွင်းတွင်ရုံးခန်း၊ ဆိုင်ခန်း၊ လူနေအိမ်နေရာ ငှားရမ်းခြင်းစသောလုပ်ငန်းများ မှ နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်လည်းကောင်း ငှားရမ်း၊ ရောင်းချရရှိရာတွင် ပထမ(၃)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁)ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်၊

(၂)လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(၃)ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်းများ

(၄)ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးဇော်ဖေ
(အုပ်ချုပ်မှုဒါရိုက်တာ)
၁၆ညီအစ်ကိုများကုမ္ပဏီလီမိတက်
**မန်းနေဂျင်း ဒါရိုက်ဘာ**
( ကြည်း ၃၃၆၇ ဗိုလ်ကြီး ဇော်ဖေ ) (ငြိမ်း)
အမှတ်(၁၆)ညီအကိုများ ကုမ္ပဏီလီမိတက်

၁၆ ညီအစ်ကိုများကုမ္ပဏီလီမိတက်
DATE ........
NO. ........
THE 16th BATCH BROTHERS CO. LTD.

16

THE 16th BATCH BROTHERS CO., LTD.

NO. 161 (D), KYAIKKASAN ROAD
NATMAUK BLOCK,
TAMWE TOWNSHIP,
YANGON, MYANMAR.
TEL : 01 - 548602

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၈ ခုနှစ်၊ ဇွန်လ ( ၁ ) ရက်။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ ၁၆ ညီအစ်ကိုများ ကုမ္ပဏီလီမိတက် သည် ပြန်ကြားရေးဝန်ကြီးဌာန၊ မြန်မာ့ရုပ်ရှင်လုပ်ငန်းပိုင်ဖြစ်သည့် စံပြရုပ်ရှင်ရုံ၊ ဘုန်းကြီးလမ်းနှင့် ကျုံးကြီးလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့ မြေနေရာတွင် (၁၂)ထပ်အမြင့်ရှိသောဟိုတယ် Office Apartment, Shopping Centre, Plaza တို့ကိုနိုင်ငံတကာ အဆင့်အတန်းမီ အဆောက်အဦးများအဖြစ် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းပေးခြင်းစနစ် ( Build, Operate and Transfer System - BOT ) အရ တည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အထက်ပါအဆောက်အဦးများနှင့်ဆက်စပ်နေသည့် ရုံးခန်း၊ ဆိုင်ခန်း၊ လူနေအိမ်နေရာ ငှားရမ်းခြင်းစသောလုပ်ငန်းများ လုပ်ကိုင်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ဖော်ပြပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(က) မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟုဝန်ခံ ကတိပြုပါသည်။

(ခ) ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ၊ ပြုလုပ်ဆောင်ရွက်ထား မည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ဂ) ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် နိုင်ငံခြားမှရွှေ့ဆိုင်းငွေပေးချေခြင်းနည်းလမ်း (Deferred Payment System)အရ ဝယ်ယူထားသော တန်ဘိုးနှင့်ပတ်သက်၍ နိုင်ငံခြားမှအကြွေးပေးသူနှင့် ချေးယူသူ ကျွန်တော်တို့ကုမ္ပဏီ နှစ်ဦးနှစ်ဖက်နှင့်သာသက်ဆိုင်ပြီး၊ နိုင်ငံတော်နှင့်မသက်ဆိုင်ပါကြောင်းနှင့်ပြန်လည်ပေးဆပ်ရာတွင်လည်း ဟိုတယ်လုပ်ငန်းမှရရှိသောဝင်ငွေ နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

ဦးဇော်ဖေ
(အုပ်ချုပ်မှုဒါရိုက်တာ)
၁၆ ညီအစ်ကိုများ ကုမ္ပဏီလီမိတက်

မန်နေဂျင်း ဒါရိုက်တာ
( ကြည်း ၇၃၆၇ ဗိုလ်ကြီး ဇော်ဖေ ) (ငြိမ်း)
အမှတ်(၁၆) ညီအကိုများ ကုမ္ပဏီလီမိတက်

THE 16th BATCH BROTHERS CO., LTD
DATE
NO.

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ( မနသ - ၁ )

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
# ( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ)နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၁.၆.၉၈

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏-

| | |
|---|---|
| (က) အမည် | ဗိုလ်ကြီးဇော်ဖေ(အငြိမ်းစား) |
| (ခ) အဘအမည် | ဦးသန်း |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | MTA -၀၉၉၉၄၂ |
| (ဃ) နေရပ်လိပ်စာ | အမှတ် ၂၃၅၊ ဥက္ကာ(၈)လမ်း၊ (၈)ရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) လူမျိုး/ဘာသာ | ဗမာ/ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | ၁၆ ညီအစ်ကိုများကုမ္ပဏီလီမိတက် |
| (ဆ) လုပ်ငန်းအမျိုးအစား | စက်မှု/ကုန်ထုတ်/ဆောက်လုပ်ရေး |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | တိုက်အမှတ်(၂၄/၁)၊ ဦးဝိစာရရိပ်သာ၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏-

| | |
|---|---|
| (က) အမည် | - |
| (ခ) အဘအမည် | - |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - |
| (ဃ) နေရပ်လိပ်စာ | - |
| | - |
| (င) လူမျိုး/ဘာသာ | - |
| (စ) အဖွဲ့အစည်းအမည် | - |
| (ဆ) လုပ်ငန်းအမျိုးအစား | - |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | - |

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား -

| | |
|---|---|
| (က) ကုန်ထုတ်လုပ်မှုလုပ်ငန်း | - |
| (ခ) ဝန်ဆောင်မှုလုပ်ငန်း | (Construction and leasing of Office & Apartment, Shopping Center & Plaza ) |

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

| | |
|---|---|
| (က) နိုင်ငံသားနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | လီမိတက်ကုမ္ပဏီ ( နောက်ဆက်တွဲဇယား - ၁ ) |
| (ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | - |
| (ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | - |

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်-

| | |
|---|---|
| (က) တစ်ဦးတည်းပိုင် | - |
| (ခ) အစုစပ်လုပ်ငန်း | - |
| (ဂ) လီမိတက်ကုမ္ပဏီ | ၁၆ ညီအစ်ကိုများကုမ္ပဏီလီမိတက် ( နောက်ဆက်တွဲဇယား - ၁ ) |
| (ဃ) သမဝါယမအသင်း | - |

၆။ အစုစပ်လုပ်ငန်းပုံသဏ္ဍာန်ဖွဲ့စည်းလိုပါက-

| | |
|---|---|
| (က) အစုဝင်တို့ကထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ | - |
| (ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား | - |
| (ဂ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ | - |

၇။ လီမိတက်ကုမ္ပဏီပုံသဏ္ဍာန်ဖွဲ့စည်းလိုပါက-

| | |
|---|---|
| (က) ခွင့်ပြုမတည်ငွေရင်း | ကျပ် ၁၀၀၀,၀၀၀,၀၀၀ (ကျပ်သန်းတစ်ထောင်တိတိ) |
| (ခ) အစုရှယ်ယာအမျိုးအစား | တစ်စုလျှင်ကျပ်၁၀,၀၀၀(ကျပ်တစ်သောင်းတိတိ) တန်သာမန်အစုရှယ်ယာ ၁၀၀၀၀၀ ( တစ်သိန်း ) |
| (ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ | ကျပ် ၂၂၅,၀၀၀,၀၀၀ ( ကျပ်သန်းနှစ်ရာနှစ်ဆယ်ငါးတိတိ )တစ်စုလျှင် ကျပ် ၁၀ ,၀၀၀ တန်အစုရှယ်ယာ (၂၂၅၀၀) |

၈။ ရင်းနှီးမြှပ်နှံမှုပြုလုပ်သည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ –

| | |
|---|---|
| (က) မတည်ငွေရင်းပမာဏ ( ယခုအဆိုပြုလုပ်ငန်းအတွက် ) | ( ကျပ် ) |
| (၁) ငွေပမာဏ | ၅၅,၀၀၀,၀၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများ | – |
| (၃) အဆောက်အဦး( နောက်ဆက်တွဲဇယား ၂ ) | ၁၅၀,၀၀၀,၀၀၀ |
| (၄) မြေ | – |
| (၅) စက်ပစ္စည်းများ၊ ကရိယာများနှင့် ကုန်ကြမ်းပစ္စည်းများ ( နောက်ဆက်တွဲဇယား ၃ ) | ၆,၀၀၀,၀၀၀ |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၂၁၁,၀၀၀,၀၀၀ |

(စက်ပစ္စည်းကရိယာနှင့် ဆောက်လုပ်ရေးပစ္စည်းများကို စင်္ကာပူနိုင်ငံ၊ M.S. FERNANDO & SONS PTE. LTD မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်( Deferred Payment System) အရ(၄)နှစ်အတွင်းပြန်ဆပ်ရန် တစ်နှစ်လျှင် (၈) ရာခိုင်နှုန်းအကြွေးဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။)

| (ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့် | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ၏တန်ဖိုး | ၆၀၀၀၀၀၀ | ၁၀၀၀၀၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်း၏တန်ဖိုး | – | – |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | – | – |
| | ၆၀၀၀၀၀၀ | ၁၀၀၀၀၀၀ |

(ဂ) တည်ဆောက်မှုကာလ ( ၂၄ )လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ ( ၃ )လ

(င) တည်ဆောက်မှုစတင်မည့်အချိန် မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့် ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ –

(က) လုပ်ငန်းအမျိုးအစား (Construction and leasing of Office & Apartment, Shopping Center & Plaza )

(ခ) ရင်းနှီးမြှပ်နှံမှုပြုလုပ်မည့်ဒေသများ ယခင်စံပြရုပ်ရှင်ရုံ၊ အမှတ် (၂၀၂–၂၀၆)၊ ဘုန်းကြီးလမ်းနှင့် ကျုံးကြီးလမ်းထောင့်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် — တည်ဆောက်၊လုပ်ဆောင်၊ လွှဲပြောင်းပေးခြင်းစနစ် Build, Operate and Transfer System ( B.O.T )

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်-

| | |
|---|---|
| ၁။ ဒီဇယ်ဆီ | ဂါလံ ( ၂၁၀၀၀ ) |
| ၂။ ဓါတ်ဆီ | ဂါလံ ( ၈၀၀၀ ) |
| ၃။ စက်ဆီ၊ ချောဆီ | ဂါလံ ( ၃၀၀ ) |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်-

| | |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | ၈၀၀၀၀၀ KWH |
| ၂။ ဒီဇယ်ဆီအင်ဂျင်စက်အင်အား | ( ၂၀၀ ) KVA |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အင်အား | - |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | - |
| ၅။ ပေးပို့သည့်အခြားအား(ရေအား/လေအားစသည်များ) | - |

(စ) နှစ်စဉ်ရေလိုအပ်ချက်-

| | |
|---|---|
| ၁။ တစ်နေ့ရေလိုအပ်ချက် | ဂါလံ ( ၁၂၀၀၀ ) |
| ၂။ တစ်နှစ်ရေလိုအပ်ချက် | ဂါလံ ( ၃.၆ ) သန်း |

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် — -

(ဇ) အဆောက်အဦလိုအပ်ချက် — ၁၁၇ ပေ x ၆၀ ပေ (၁၂)ထပ် (၁) လုံး

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် — ပြန်ကြားရေးဝန်ကြီးဌာန၊မြန်မာ့ရုပ်ရှင်လုပ်ငန်းပိုင်မြေ၊ (၀.၁၆၁၁)ဧက /(၆၅၁.၉၅) စတုရန်းမီတာ

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှု — နောက်ဆက်တွဲဇယား - ၄

(ဋ) ရောင်းချမည့်နည်းစနစ် — အမေရိကန်ဒေါ်လာ နှင့် မြန်မာကျပ်ငွေများဖြင့်ငှား ရမ်းဆောင်ရွက်သွားမည်။

၁၀။ နှစ်စဉ်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ-

| | ခန့်မှန်းခြေ ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား - ၅ | |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား - ၇ | |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - ၄ | |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၄ | |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၄ | |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ- နောက်ဆက်တွဲဇယား - ၆

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့်အတတ်ပညာရှင်များ- နောက်ဆက်တွဲဇယား - ၆

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ-

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား - ၇ | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲဇယား - ၇ | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲဇယား - ၇ | |
| (ဃ) | နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား - ၈ | |
| (င) | အရင်းကြေကာလ | နောက်ဆက်တွဲဇယား - ၉ | |
| (စ) | အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲဇယား - ၁၀ / ၁၁ | |
| (ဆ) | အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲဇယား - ၆ | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ-

အဆိုပြုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း
(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ
(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ
(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့်ပြင်ဆင်ဖွဲ့စည်းမည့်အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ၊ ---------------------------
အမည်၊ ၊ ဦးဇော်ဖေ
ရာထူး၊ ၊ အုပ်ချုပ်မှုဒါရိုက်တာ
၁၆ ညီအစ်ကိုများကုမ္ပဏီလီမိတက်

မန်နေဂျင်း ဒါရိုက်တာ
( ကြည်း ၃၃၆၇ ဗိုလ်ကြီး ဇော်ဖေ ) (ငြိမ်း)
အမှတ်(၁၆) ညီအကိုများ ကုမ္ပဏီလီမိတက်

THE 16 BATCH BROTHERS CO.,LTD.

PROPOSAL FORM (1) RE-ITEM 4( a ), 5(d)

LIST OF EXECUTIVES OF THE 16th BATCH BROTHERS COMPANY LIMITED *Exhibit No. I*

| Sr. No. | Name | Citizenship & N.R.C No. Passport No. | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | ၁၆ ညီအကိုများ ကုမ္ပဏီလီမိတက် ကို ကိုယ်စားပြုသူများ – | | | | ကျပ် (၂၂၅) သန်း | 100% |
| ၁။ | ဗိုလ်ကြီးဇော်ဖေ (အငြိမ်းစား) | မြန်မာ MTA – ၀၉၉၉၄၂ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ် ၂၃၅၊ ဥက္ကာ(၈)လမ်း၊ (၈)ရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၂။ | ဗိုလ်မှူးဉာဏ်စိန် (အငြိမ်းစား) | မြန်မာ ပီအမ်အီး–၀၈၄၉၈၀ | ဒါရိုက်တာ | အခန်းအမှတ်(၁)၊ တိုက်အမှတ် (၂၄)၊ ဦးဝိစာရအိမ်ယာ၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၃။ | ဗိုလ်ကြီးကံစိ (အငြိမ်းစား) | မြန်မာ | ဒါရိုက်တာ | | | |
| | စုစုပေါင်းရင်းနှီးငွေ | | | | ကျပ် (၂၂၅) သန်း | 100% |

**PROPOSAL FORM (1) RE-ITEM 8 A(3)**
**VALUE OF BUILDINGS CONSTRUCTION**

**Exhibit No. II**

| Sr No | DESCRIPTION | ESTIMATE COST IN KYAT | ESTIMATE COST IN US$ | TOTAL COST IN KYAT |
|---|---|---|---|---|
| 1 | ဆောက်လုပ်ရမည့်အဆောက်အဦး<br><br>Office & Apartment, Plaza, Shopping Center ( 12 Storey ) | 170,000,000 | 1,000,000 | 176,000,000 |
| | စုစုပေါင်း | 170,000,000 | 1,000,000 | 176,000,000 |

Note: Exchange Rate 1 US$ = Kyat 6.00.

PROPOSAL FORM (1) RE-ITEM 9(j), 10(c),(d),(e)

SERVICES TO BE RENDERED

Exhibit No. ( IV )

**PLAZA, SHOPPING CENTER, OFFICE & APARTMENT ( 12 Storey )**

| Sr No | | Particulars | UNIT | Year 1 | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 TO 30 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | BUILD-UP AREA | Sq M | 7826 | 7826 | 7826 | 7826 | 7826 | 7826 | 7826 | 7826 | 7826 | 7826 |
| 2 | | NET RENTABLE AREA | Sq M | 6260 | 6260 | 6260 | 6260 | 6260 | 6260 | 6260 | 6260 | 6260 | 6260 |
| 3 | | OCCUPANCY RATE IN US$ | % | 30 | 35 | 40 | 40 | 40 | 40 | 40 | 40 | 40 | 40 |
| 4 | | OCCUPANCY RATE IN KYAT | % | 35 | 40 | 45 | 45 | 45 | 45 | 45 | 45 | 45 | 45 |
| 5 | | ANNUAL RENTAL RATE | US$/SqM | 180 | 200 | 220 | 240 | 260 | 260 | 260 | 260 | 260 | 260 |
| 6 | | ANNUAL RENTAL RATE | Ks/SqM | 16000 | 17600 | 19200 | 20800 | 22400 | 22400 | 22400 | 22400 | 22400 | 22400 |
| 7 | | INCOME OF GENERAL SERVICES FEE | = 10% OF TOTAL ANNUAL RENTAL INCOME | | | | | | | | | | |
| 8 | 8.1 | INCOME FROM RENTAL | US$000 | 338 | 438 | 551 | 601 | 651 | 651 | 651 | 651 | 651 | 651 |
| | 8.2 | INCOME OF MANAGEMENT FEE | US$000 | 34 | 44 | 55 | 60 | 60 | 60 | 60 | 60 | 60 | 60 |
| 9 | | TOTAL INCOME IN US$ | US$000 | 372 | 482 | 606 | 661 | 711 | 711 | 711 | 711 | 711 | 711 |
| 10 | | EQUIVALENT IN KYAT | Ks. 000 | 2232 | 2892 | 3636 | 3966 | 4266 | 4266 | 4266 | 4266 | 4266 | 4266 |
| 11 | 11.1 | INCOME FROM RENTAL | Ks. 000 | 35056 | 44070 | 54086 | 58594 | 63101 | 63101 | 63101 | 63101 | 63101 | 63101 |
| | 11.2 | INCOME OF MANAGEMENT FEE | Ks. 000 | 3506 | 4407 | 5409 | 5859 | 6310 | 6310 | 6310 | 6310 | 6310 | 6310 |
| 12 | | TOTAL INCOME IN KYAT ONLY | Ks. 000 | 38562 | 48477 | 59495 | 64453 | 69411 | 69411 | 69411 | 69411 | 69411 | 69411 |
| 13 | | TOTAL INCOME IN KYAT | Ks. 000 | 40794 | 51369 | 63131 | 68419 | 73677 | 73677 | 73677 | 73677 | 73677 | 73677 |

Note: (1) Exchange Rate is 1 US$ = Kyat 6.00

PROPOSAL FORM (1) RE-ITEM 10 (a)

AMOUNT OF WORKING CAPITAL REQUIREMENT & CASH FLOW STATEMENT

( Kyats in Thousand ) Exhibit No. V

| Sr.No | | Particulars | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 to 20 | Year 21 to 30 |
|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 | 11 | 12 |
| 1 | | **CASH IN FLOW** | | | | | | | | | | |
| | 1 | Equity Capital - In Cash | 55000 | | | | | | | | | |
| | 2 | Equity Capital - In Buildings | 170000 | | | | | | | | | |
| | 3 | Loan Capital - In Machineries & Equipments | 6000 | | | | | | | | | |
| | 4 | Profit ( Loss ) after Tax | 11441 | 19184 | 28282 | 22022 | 23827 | 23827 | 23827 | 23827 | 23827 | 29987 |
| | 5 | Depreciation | 8800 | 8800 | 8800 | 8800 | 8800 | 8800 | 8800 | 8800 | 8800 | 0 |
| | | | 251241 | 27984 | 37082 | 30822 | 32627 | 32627 | 32627 | 32627 | 32627 | 29987 |
| 2 | | **CASH OUT FLOW** | | | | | | | | | | |
| | 1 | Repayment for Deferred Payment Purchases | 1500 | 1500 | 1500 | 1500 | | | | | | |
| | 2 | Buildings | 170000 | | | | | | | | | |
| | | | 171500 | 1500 | 1500 | 1500 | 0 | 0 | 0 | 0 | 0 | 0 |
| 3 | | Net Cash Flow | 79741 | 26484 | 35582 | 29322 | 32627 | 32627 | 32627 | 32627 | 32627 | 29987 |
| 4 | | Opening Balance | - | 79741 | 106225 | 141807 | 171129 | 203756 | 236383 | 269010 | 301637 | 334264 |
| 5 | | Closing Balance | 79741 | 106225 | 141807 | 171129 | 203756 | 236383 | 269010 | 301637 | 334264 | 364251 |

Note: (1) Exchange Rate 1 US$ = Kyat 6.00

